# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် ၀၇၉ / ၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ-၂၅၊ ပုဒ်မခွဲ(ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဝင်းဗိုလ်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၅၀)၊ ၂၄-လမ်း၊ အမှတ်(၁၁)ရပ်ကွက်၊ ပခုက္ကူမြို့နယ်၊ ပခုက္ကူမြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ဆိတ်မွေးမြူ ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ် (၁၁) ရပ်ကွက်၊ ကွင်းအမှတ်-၃၄၄၊ မကျီးသမ္ဗျားတောင်၊ ဦးပိုင်အမှတ်-F/ ၇၀၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ ရှိမြေ (၀.၄၄) ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၅၀ သန်း

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၆ လ

(၁၂) **အတည်ပြုမိန့် သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** Min Chan Thar Pin Myint San Company Limited ( မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီ လီမိတက်)

30.1.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ် ၊ မရက- ၂/အ-၀၂၄/၂၀၁၈(၀၆၅-၁)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံကုမ္ပဏီလီမိတက်) မှ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း အတည်ပြုမိန့်အပေါ်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Min Chan Thar Pin Myint San Company Limited(မင်းချမ်းသာပင်မြင့်စံကုမ္ပဏီလီမိတက်) ၏ ၉-၁၁-၂၀၁၇ ရက်စွဲပါစာ

၁။ Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) မှ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ်(၁၁) ရပ်ကွက်၊ ကွင်းအမှတ် ၃၄၄၊ မကျီးသမျှားတောင်၊ ဦးပိုင်အမှတ်-F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ ရှိမြေ(၀.၄၄)ဧက တွင် ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်)အား ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် အတည်ပြုမိန့်အမှတ်၊ ၀၇၉ / ၂၀၁၈ ကို ထုတ်ပေးလိုက် သည်။

၂။ Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက် ရမည်-

(က) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂) အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ

ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့် အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ**အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရား များနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

(ဃ) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်း ခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင် သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည် ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(ကျော်ဝင်း)
ဥက္ကဋ္ဌ

**Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်)**
**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စု အစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
မကွေးတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန